ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အတွင်း

နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ရင်းနှီးမြှုပ်နှံလိုသူ၏

ဆောင်ရွက်ရန် အဆိုပြုချက်

"စီးတီးစကွယ်ရ်းတာဝါကုမ္ပဏီလီမိတက်"



# PROPOSAL OF THE INVESTOR

# FOR MAKING FOREIGN INVESTMENT

# IN THE REPUBLIC OF THE UNION OF MYANMAR

# "CITY SQUARE TOWER COMPANY LIMITED"

## City Square Tower Co., Ltd.
### Contents of MIC Application

# Shwe Taung Junction City Development Co., Ltd.

Ahlone Tower, River View Garden Housing, Strand Road, Ahlone Township, Yangon.
Tel : 01-211430, 211428 Fax: 01-211946


သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

စာအမှတ် ။ ။ STJC / MD / 004 /2014
ရက်စွဲ ။ ။ ၂၀၁၄ခုနှစ်၊ ဇွန်လ (၁၆)ရက်

**အကြောင်းအရာ ။ ။ <u>Shwe Taung Junction City Development Co., Ltd. မှ ဗိုလ်ချုပ်အောင်ဆန်း Square စီမံကိန်း၏ Hotel / Office / Service Apartment/ Commercial လုပ်ငန်းများအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်ခွင့်ပြုရန် တင်ပြခြင်းကိစ္စ။</u>**

ရည်ညွှန်းချက် ။ ။ (၁) က. City Square Hotel Co., Ltd. ၏ (၄-၃-၂၀၁၄)ရက်စွဲပါစာ
ခ. City Square Tower Co., Ltd.၊ City Square Office Co., Ltd၊ City Square Commercial Co., Ltd.တို့၏ (၁၁-၃-၂၀၁၄)ရက်စွဲပါစာများ
(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၇-၆-၂၀၁၄)ရက်စွဲပါ စာအမှတ် ရက-၆(က)/န-၉၈၁/၂၀၁၄ (၅၇၄၂-င)

၁။ ရန်ကုန်တိုင်းဒေသကြီး၊ ပန်းဘဲတန်းမြို့နယ်၊ ဗိုလ်ချုပ်အောင်ဆန်းလမ်း နှင့် ရွှေတိဂုံဘုရားလမ်းထောင့်၊ မြေတိုင်းရပ်ကွက်(၁၆စီ-၃)၊ မြေကွက်အမှတ် (၃-အေ)ရှိ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီပိုင် ဗိုလ်ချုပ်ဈေးသစ်နှင့် လေဟာပြင်ဈေးနေရာရှိ မြေဧရိယာ ၆. ၅၂၅ဧကတွင် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ (YCDC)နှင့် တင်ဒါအောင်မြင်ခဲ့သည့် Shwe Taung Junction City Development Co., Ltd. တို့သည် ဗိုလ်ချုပ်အောင်ဆန်း SQUARE စီမံကိန်းလုပ်ငန်း အကျိုးတူ ပူးပေါင်းဆောင်ရွက်ခြင်း သဘောတူစာချုပ်အား ၁၁-၅-၂၀၁၃နေ့တွင် လက်မှတ်ရေးထိုးခဲ့ပါသည်။

၂။ အဆိုပါစီမံကိန်းလုပ်ငန်းများမှ Hotel / Office / Service Apartment/ Commercial အစိတ်အပိုင်းများအား Shwe Taung Junction City Development Co., Ltd. မှ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် City Square Hotel Co., Ltd၊ City Square Tower Co., Ltd၊ City Square Office Co. Ltd.၊ City Square Commercial Co., Ltd. တည်ထောင်ကာ လုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ရည်ညွှန်းချက် (၁-က) နှင့် (၁-ခ)ပါစာများဖြင့် တင်ပြလျှောက်ထားခဲ့ပါသည်။

# Shwe Taung Junction City Development Co., Ltd.

Ahlone Tower, River View Garden Housing, Strand Road, Ahlone Township, Yangon.
Tel : 01-211430, 211428  Fax. 01-211946


၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ (၇-၆-၂၀၁၄)ရက်စွဲပါ ရည်ညွှန်းချက်-၂ပါစာဖြင့် ဖော်ပြထားသော အဆိုပြု တင်ပြချက်(၄)ခုအပေါ် လမ်းညွှန်ချက်များအား အောက်ပါအတိုင်း တင်ပြအပ်ပါသည်။

(၃-က) "အဆိုပြုချက်တင်ပြချက် အကျဉ်းစာအုပ် ၂ အုပ်တွင် ဖော်ပြထားသော အဆိုပြုလုပ်ငန်းများသည် မူလစာချုပ်ပါတိုင်း လုပ်ငန်းဆောင်ရွက်မည့်ပုံစံ မဟုတ်သည်ကို သုံးသပ်တွေ့ရှိရပါကြောင်း၊ မူလစာချုပ်ကို ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီနှင့် Shwe Taung Junction City Development Co., Ltd. တို့ ချုပ်ဆိုထားခြင်းဖြစ်ရာ မူလစာချုပ်ပါဆောင်ရွက်မည့် လုပ်ငန်းပုံစံကိုပြင်ဆင်ပါက မူလစာချုပ်ဝင်များကသာ ပြင်ဆင်နိုင်မည်ဖြစ်ပါကြောင်း၊ လုပ်ငန်းပုံစံပြောင်းလဲလိုပါက မူလစာချုပ်ပါ စာချုပ်ဝင်နှစ်ဖက်၏ သဘောတူညီချက်ဖြင့် မူလစာချုပ်အား ပြင်ဆင်သည့် ပြင်ဆင်ချက် စာချုပ်ချုပ်ဆိုရန် လိုအပ်သည်ကို သုံးသပ်တွေ့ရှိရပါကြောင်း "

## တင်ပြချက်

အဆိုပြုတင်ပြချက် အကျဉ်းချုပ်စာအုပ်(၂)အုပ်တွင် ဖော်ပြထားသော အဆိုပြုလုပ်ငန်းများဟု ဆိုရာတွင် မိမိတို့တင်ပြခဲ့သော တင်ပြချက်များသည် Presentation Format အရ နားလည်လွယ်ရန် ကောက်နုတ်တင်ပြခဲ့ခြင်း ဖြစ်ပါသဖြင့် လိုအပ်ချက်များ ရှိနိုင်ပါသည်။

မိမိတို့လုပ်ငန်းဆောင်ရွက်မှုပုံစံသည် မူလစာချုပ်ပါအတိုင်း ဆောင်ရွက်မည်ဖြစ်ပါကြောင်း အောက်ပါအတိုင်း ရှင်းလင်းတင်ပြအပ်ပါသည်။

(၃-က-၁) မူလစာချုပ်ပါ တည်ဆောက်ရမည့် အဆောက်အဦများအား ပြောင်းလဲတည်ဆောက်ခြင်း မရှိဘဲ စာချုပ်ပါ အဆောက်အဦများအတိုင်း ဆောင်ရွက်ခြင်းဖြစ်ပါသည်။

| စာချုပ်တွင်ဖော်ပြထားသည့်လုပ်ငန်းများ | ဆောင်ရွက်မည့်ပုံစံ |
|---|---|
| (၁) လက်ရှိဗိုလ်ချုပ်ဈေးဟောင်းနှင့် ယခု တည်ဆောက်မည့် ဗိုလ်ချုပ်ဈေးသစ်တို့ ဆက်သွယ်သည့် Retail Bridge တည်ဆောက်ပေးရန်၊ | JV လုပ်ငန်းတွင် ပါဝင်ခြင်းမရှိပါ။ Shwe Taung Junction City Development Co., Ltd. မှ မိမိအစီအစဉ်ဖြင့် ဆောင်ရွက်ပါသည်။ |
| (၂) Replacement Shops များ တည်ဆောက်ပေးရန်၊ | JV လုပ်ငန်းတွင် ပါဝင်ခြင်းမရှိပါ။ Shwe Taung Junction City Development Co. Ltd. မှ မိမိအစီအစဉ်ဖြင့် တည်ဆောက်ပြီး ရန်ကုန်မြို့တော် စည်ပင်သာယာရေး ကော်မတီသို့ လွှဲပြောင်းပေးပါမည်။ |

# Shwe Taung Junction City Development Co., Ltd.

Ahlone Tower, River View Garden Housing, Strand Road, Ahlone Township, Yangon.
Tel : 01-211430, 211428 Fax: 01-211946


| | |
|---|---|
| (၃) Hotel / Service Condominium / Office (၂၅)ထပ် အဆောက်အဦ တည်ဆောက် ပေးရန်၊ | (၂၅)ထပ် ဟိုတယ်အဆောက်အဦ တည်ဆောက်မည် ဖြစ်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်မည် ဖြစ်ပါသည်။ |
| (၄) Banquet (or) Convention Center တည်ဆောက် ပေးရန်၊ | ဟိုတယ်အဆောက်အဦတွင် ပါဝင်သွားမည် ဖြစ်ပါသည်။ |
| (၅) Shopping Center အဆောက်အဦ တည်ဆောက် ပေးရန်၊ | ပြောင်းလဲမှုမရှိဘဲ Shopping Complex အဖြစ် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်သွားပါမည်။ |
| (၆) Office - (၂၃)ထပ် အဆောက်အဦ တည်ဆောက်ပေးရန်၊ | (၂၃)ထပ် Office Tower ကို နိုင်ငံခြား ရင်းနှီး မြှုပ်နှံမှုဖြင့် ဆောင်ရွက်သွားပါမည်။ |
| (၇) Residential Twin Tower -၂လုံး၊ အထပ်အားဖြင့် (၂၈)ထပ် အဆောက်အဦ တည်ဆောက်ပေးရန်၊ | ၂၈ ထပ် Residential Service Apartment အဖြစ် နိုင်ငံခြားရင်းနှီး မြှုပ်နှံမှုဖြင့် ဆောင်ရွက်သွားပါမည်။ |
| (၈) Shop House အဆောက်အဦ တည်ဆောက် ပေးရန်၊ | JV လုပ်ငန်းတွင် ပါဝင်ခြင်းမရှိပါ။ Shwe Taung Junction City Development Co., Ltd. မှ မိမိအစီအစဉ်ဖြင့် ဆောင်ရွက်ပါသည်။ |

(၃-က-၂) Shwe Taung Junction City နှင့် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ တို့သည် အကျိုးတူပူးပေါင်းဆောင်ရွက်သော အခြေခံမှုဖြင့် နှစ်ဦးသဘောတူစာချုပ် ချုပ်ဆိုဆောင်ရွက် ခဲ့ခြင်းဖြစ်ပြီး အောက်ပါ သဘော တူညီချက်များ ဖော်ပြ ပါရှိပါသည်။

(၂-၁) ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီမှ ရရှိမည့် အကျိုးခံစားခွင့်၊ Shwe Taung Junction City Development Co., Ltd. မှ ရရှိမည့် အကျိုးခံစားခွင့်များကို စာချုပ်ပါ အပိုဒ် (၁၈-၁) မှ (၁၈-၅) တို့တွင် သဘောတူညီခဲ့ပါသည်။

(၂-၂) Shwe Taung Junction City Development Co., Ltd. သည် စာချုပ်အပိုဒ်(၁၈-၆) အရ မိမိတို့အကျိုးခံစားခွင့်ရှိသည့် အစိတ်အပိုင်းများအား "မည်သည့်အစိတ် အပိုင်းကို မဆို မိမိတို့၏ကိုယ်ပိုင်အစီအစဉ်ဖြင့် ကုမ္ပဏီများနှင့် လူပုဂ္ဂိုလ်တို့အား မြန်မာနိုင်ငံ တည်ဆဲဥပဒေများနှင့်အညီ လွှတ်လပ်စွာရောင်းချခြင်း၊ ပေါင်နှံခြင်း၊

**Shwe Taung Junction City Development Co., Ltd.**
Ahlone Tower, River View Garden Housing, Strand Road, Ahlone Township, Yangon
Tel : 01-211430, 211428 Fax: 01-211946

စွန့်လွှတ်ပေးအပ်ခြင်း၊ ငှားရမ်းခြင်း၊ ဖက်စပ်လုပ်ကိုင်ခြင်း၊ ထပ်ဆင့်ငှားရမ်းခြင်း၊ စီးပွားရေးလုပ်ငန်းများ လုပ်ကိုင်နိုင်ခြင်း၊ တာဝန်လွှဲပြောင်းခြင်း၊ အသုံးပြုပိုင်ခွင့် လွှဲပြောင်းပေးခြင်းများ" ပြုလုပ်နိုင်ပါသည်။

(၂-၃) Shwe Taung Junction City Development Co., Ltd သည် ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီထံမှ ၎င်းတို့ရရှိသည့် အစိတ်အပိုင်းများကို အပိုဒ် (၁၈-၇)ဖြင့် ငှားရမ်းခများ သဟ်မှတ် သဘောတူညီပြီး ပြန်လည် ငှားရမ်းခဲ့ခြင်း ဖြစ်ပါသည်။

(၂-၄) Shwe Taung Junction City Development Co., Ltd သည် အပိုဒ်(၂၀)အရ ထိုသို့ ငှားရမ်း ရရှိသည့်အပိုင်းကို ဖက်စပ်ဆောင်ရွက်ခြင်းဖြစ်ပါသည်။

(၃-က-၃) အထက်ပါသဘောတူညီချက်များပေါ်တွင် အခြေပြု၍ Shwe Taung Junction City Development Co., Ltd အနေဖြင့် အောက်ပါအတိုင်းဆောင်ရွက်ရန် တင်ပြခြင်း ဖြစ်ပါသည်။

(၃-၀) အဆိုပါ ဗိုလ်ချုပ်အောင်ဆန်း SQUARE စီမံကိန်းလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ပမာဏအားဖြင့် ကြီးမားပြီး လုပ်ငန်းစုံပါဝင်သော စီမံကိန်းဖြစ်သည့်အလျောက် မိမိတို့ Shwe Taung Junction City Development Co., Ltd. အနေဖြင့် အဆိုပါစီမံကိန်းကြီးမှ လုပ်ငန်း(၄)ရပ်ဖြစ်သော Hotel, Shopping Complex, Office နှင့် Residential (Service Apartment) လုပ်ငန်းများအား နိုင်ငံတကာ အဆင့်ဖြင့် ပိုမို ထိရောက်စွာ ဆောင်ရွက်နိုင်ရန် ရည်ရွယ်၍သော်လည်းကောင်း၊ လိုအပ်သော နည်းပညာနှင့် ငွေကြေး အထောက်အပံ့များ ရရှိစေရန်အတွက် လည်းကောင်း ရည်ရွယ်၍ မိမိတို့ Shwe Taung Junction City Development Co., Ltd. မှ Majority Share အဖြစ်နှင့် အဓိကရှယ်ယာပါဝင်ပြီး အဆိုပါလုပ်ငန်းများတွင် နိုင်ငံတကာအဆင့် ကျွမ်းကျင်မှုရှိပြီးဖြစ်သော နိုင်ငံခြား ရင်းနှီးမြှုပ်နှံသူများအား ဖိတ်ခေါ်၍ ဖက်စပ် ကုမ္ပဏီ (၄)ခုအား Joint Venture Agreement များရေးထိုး၍ တည်ထောင်ဆောင်ရွက်သွားရန် ဖြစ်ပါသည်။

**Shwe Taung Junction City Development Co., Ltd.**

Ahlone Tower, River View Garden Housing, Strand Road, Ahlone Township, Yangon.
Tel : 01-211430, 211428 Fax: 01-211946

(၃-၂) Shwe Taung Junction City Development Co., Ltd သည် မိမိတို့ရရှိသည့် အကျိုးခံစားခွင့်များနှင့် မိမိတို့ နှစ်ရှည်ငှားရမ်းထားသည့်အပိုင်းတို့အား စာချုပ်ပါ အကျိုးခံစားခွင့်များကို အခမဲ့ပြု၍ ဖက်စပ်ကုမ္ပဏီ(၄)ခုသို့နှင့် (၅၀+၁၀+၁၀)နှစ်ဖြင့် အသုံးပြုပိုင်ခွင့် Development & Use စာချုပ်များ ချုပ်ဆိုပြီး ဆောင်ရွက်သွားမည် ဖြစ်ပါသည်။ ထိုသို့စာချုပ်များ ချုပ်ဆိုရာတွင် Shwe Taung Junction City Development Co., Ltd. မှတစ်ဖက် နှင့် Shwe Taung Junction City Development Co., Ltd. ပါဝင်သည့် ဖက်စပ်ကုမ္ပဏီတစ်ခုချင်းစီဖြင့် ချုပ်ဆို ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

(၃-၃) ၎င်းဖက်စပ်ကုမ္ပဏီများသည် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ နှင့် တိုက်ရိုက်ဆောင်ရွက်ရန် မရည်ရွယ်ဘဲ စာချုပ်အရ အကျိုးခံစားခွင့် ရရှိထားသည့် Shwe Taung Junction City Development Co., Ltd. နှင့်သာ ပုဂ္ဂလိကကဏ္ဍ သဘောတူ စာချုပ်များဖြင့် ဆောင်ရွက်သွားရန် ရည်ရွယ်တင်ပြခဲ့ခြင်း ဖြစ်ပါသည်။

(၃-၄) Shwe Taung Junction City Development Co., Ltd. သည် ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီနှင့် ချုပ်ဆိုထားသော စာချုပ်ပါ သတ်မှတ်ထားသည့် ငှားရမ်းခ၊ သတ်မှတ်ထားသည့် အဆောက်အဦများနှင့် စာချုပ်ပါ စည်းကမ်းချက်နှင့် တာဝန်များကို မိမိတို့ကုမ္ပဏီမှပင် ပြည့်မီအောင် ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

အထက်ပါ တင်ပြချက်များအတိုင်း ဖက်စပ်ကုမ္ပဏီများနှင့် Development & Use စာချုပ်များ ချုပ်ဆိုပြီး ဆောင်ရွက်သွားမည်ဖြစ်ပါသောကြောင့် မိမိတို့အနေဖြင့် မူလစာချုပ်ပါ ဆောင်ရွက်ရမည့် လုပ်ငန်းပုံစံကို ပြင်ဆင်ရန် မရည်ရွယ်ပါသဖြင့် မိမိတို့ တင်ပြအဆိုပြုထားသည့်အတိုင်း ဖက်စပ်ကုမ္ပဏီ (၄)ခု ဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ အဆိုပြုလွှာ(၄)ခုအား ခွင့်ပြုပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

# Shwe Taung Junction City Development Co., Ltd.

Ahlone Tower, River View Garden Housing, Strand Road, Ahlone Township, Yangon.
Tel : 01 211430, 211428 Fax: 01-211946


(၃-ခ) "အဆိုပြုတင်ပြချက်အကျဉ်းချုပ်စာအုပ် ၂ အုပ်သည် မူလစာချုပ်ဝင်ဖြစ်သော Shwe Taung Junction City Development Co., Ltd. က တင်ပြခြင်းမဟုတ်ဘဲ City Square Hotel Co, Ltd.၊ City Square Office Co., Ltd.၊ City Square Tower Co., Ltd.၊ City Square Commercial Co., Ltd. တို့က တင်ပြခြင်းဖြစ်ကြောင်း၊ အဆိုပါတင်ပြချက်များကို မူလစာချုပ်ဝင်ဖြစ်သော Shwe Taung Junction City Development Co., Ltd. ကသာ တင်သွင်းသင့်ပါကြောင်း၊"

## တင်ပြချက်

Shwe Taung Junction City Development Co., Ltd အနေဖြင့် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီနှင့် ချုပ်ဆိုထားသော ဗိုလ်ချုပ်အောင်ဆန်း SQUARE စီမံကိန်းပါ အဆောက်အဦများအားလုံးအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်ခြင်းမဟုတ်ဘဲ အစိတ်အပိုင်း (၄)ခုကိုသာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် အထက်အပိုဒ်(က)ပါ ရှင်းလင်းတင်ပြချက်အတိုင်း ဆောင်ရွက်သွားမည် ဖြစ်ပါသည်။ ထိုသို့ဆောင်ရွက်ရာတွင် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဖက်စပ်ကုမ္ပဏီများမှ အဆိုပြုလွှာ တင်သွင်းဆောင်ရွက်ခြင်းဖြစ်ပါသည်။

ရန်ကုန်မြို့တော်စည်ပင်သာယာရေး ကော်မတီမှလည်း စီမံကိန်းလုပ်ငန်း သဘောတူစာချုပ်ပါ စည်းကမ်းချက်များ၊ တည်ဆဲဥပဒေများနှင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေတို့အရ ဆောင်ရွက်ခွင့် တင်ပြခြင်းအပေါ် ကန့်ကွက်ရန် မရှိကြောင်း သဘောထားမှတ်ချက်ကိုလည်း လေ့လာသိရှိရပါသည်။

သို့ဖြစ်ပါ၍ ရင်းနှီးမြှုပ်နှံမှုအဆိုပြုလွှာအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဖက်စပ်ကုမ္ပဏီများမှ တင်သွင်းခြင်း အပေါ် ခွင့်ပြုပေးနိုင်ပါရန် လေးစားစွာတင်ပြအပ်ပါသည်။ Shwe Taung Junction City Development Co., Ltd အနေဖြင့် ထပ်မံလိုအပ်သော တင်ပြချက်များကို လမ်းညွှန်မှုအတိုင်း တင်ပြဆောင်ရွက်အမိန့်နာခံသွားမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

# Shwe Taung Junction City Development Co., Ltd.

Ahlone Tower, River View Garden Housing, Strand Road, Ahlone Township, Yangon.
Tel : 01-211430, 211428 Fax: 01-211946

(၃-ဂ) "Shwe Taung Junction City Development Co., Ltd သည် Bogyoke Aung San Square Project အား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် အဆိုပါ ကုမ္ပဏီ ၄ခုနှင့် ဖက်စပ်လုပ်ကိုင်မည်ဆိုပါက မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၆(စ)တွင် ပြဋ္ဌာန်းထားချက်အရ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ လုပ်ကိုင်ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ကြောင်း၊ "

**တင်ပြချက်**

Shwe Taung Junction City Development Co., Ltd သည် အပိုဒ်(ခ)ပါ ရှင်းလင်းတင်ပြချက် အတိုင်း ဗိုလ်ချုပ်အောင်ဆန်း SQUARE စီမံကိန်းပါ လုပ်ငန်းအားလုံးအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်ခြင်းမဟုတ်ဘဲ ၎င်းစီမံကိန်းပါ အပိုင်း(၄)ပိုင်းကိုသာ ဖက်စပ်ကုမ္ပဏီတည်ထောင်ပြီး နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း အတည်ပြု တင်ပြအပ်ပါသည်။ သို့ဖြစ်ပါ၍ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန် လေးစားစွာ တင်ပြအပ်ပါသည်။

(၃-ဃ) "မူလစာချုပ်သည် နှစ်ဖက်လက်မှတ်ရေးထိုးပြီးဖြစ်၍ စာချုပ်ပါစည်းကမ်းချက်များသည် ဥပဒေအရ စာချုပ်ဝင်များအပေါ် စည်းနှောင်မှုရှိပါကြောင်း၊ "

**တင်ပြချက်**

မိမိတို့ ကုမ္ပဏီအနေဖြင့် စာချုပ်ပါစည်းကမ်းချက်များကို အလေးအနက်ထား ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

(၃-င) " ယင်းစာချုပ်အား မူလစာချုပ်ဝင်များမှ ပြင်ဆင်လိုပါက ပြင်ဆင်ချက်စာချုပ်(မူကြမ်း)ပြုစုပြီး ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ ပေးပို့လာပါက သဘောထားမှတ်ချက် ပြန်ကြားပေးမည် ဖြစ်ပါကြောင်း၊ "

တင်ပြချက်

အပိုဒ် (က)၊ (ခ) နှင့် (ဂ)များတွင် တင်ပြခဲ့သည့်အတိုင်း မိမိတို့ ကုမ္ပဏီအနေဖြင့် စာချုပ်အား ပြင်ဆင်ရန် မရည်ရွယ်ပါသဖြင့် မိမိတို့ ကုမ္ပဏီမှ အဓိကပါဝင်ဆောင်ရွက်သည့် ဖက်စပ်ကုမ္ပဏီ (၄)ခုဖြင့် ရင်းနှီးမြှုပ်နှံဆောင်ရွက်ခွင့်ပြုပါရန် လေးစားစွာ တင်ပြအပ်ပါသည်။

# Shwe Taung Junction City Development Co., Ltd.

Ahlone Tower, River View Garden Housing, Strand Road, Ahlone Township, Yangon
Tel : 01-211430, 211428 Fax: 01-211946

၄။ ယခုအခါ တည်ဆောက်ရေးစီမံကိန်းလုပ်ငန်းများ မရှိန်အဟုန်ဖြင့် ဆောင်ရွက်လျက်ရှိပြီး မိမိတို့အနေဖြင့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံသူများနှင့် ဆွေးနွေးညှိနှိုင်း၍ ပဏာမသဘောတူညီချက်များလည်း ရရှိထားပြီး ဖြစ်ပါသည်။ ထိုကဲ့သို့ ပဏာမကြီးမားသော စီမံကိန်းကြီးများတွင် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုများအား ခေါ်ယူ၍ ပူးပေါင်းဆောင်ရွက်မှသာလျှင် ရန်ကုန်မြို့တော်၏ လိုအပ်ချက် တစ်ရပ်ဖြစ်သော Hotel၊ Service Apartment နှင့် Office လိုအပ်ချက်များအား လျှင်မြန်စွာ တစ်ဖက် တစ်လမ်းမှနေ၍ ပံ့ပိုးဖြည့်ဆည်းပေးနိုင်မည်ဟု ယူဆပါသည်။

သို့ဖြစ်ပါ၍ မိမိတို့တင်ပြသော အဆိုပြုလုပ်ငန်းများအား ဆက်လက်ဆောင်ရွက်ခွင့် ရရှိရေးအတွက် သောလျှင်စွာ ပေါင်းစပ်ညှိနှိုင်းဆုံးဖြတ်ပေးနိုင်ပါရန် လေးစားစွာ တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်



(အောင်ဇော်နိုင်)
အုပ်ချုပ်မှုဒါရိုက်တာ
Shwe Taung Junction City Development Co., Ltd.

<u>မိတ္တူကို</u>

- အတွင်းရေးမှူး၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
- ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန် ကမကထပြုသူ၏ ဆောင်ရွက်ရန် အဆိုပြုချက်

# PROPOSAL OF THE PROMOTER TO MAKE FOREIGN INVESTMENT IN THE REPUBLIC OF THE UNION OF MYANMAR

ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်အတွင်း နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန်
ရင်းနှီးမြှုပ်နှံသူ / ကမကထပြုသူ၏အဆိုပြုချက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊
ရက်စွဲ၊ ၂၀၁၄ခုနှစ်၊ မတ်လ ( ၁၁ )ရက်

ကျွန်တော်/ကျွန်မသည် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုပါသဖြင့် ခွင့်ပြုပါရန် အောက်ပါ **အချက် အလက်**များကို ဖော်ပြ၍ လျှောက်ထားအပ်ပါသည်-

၁။ ရင်းနှီးမြှုပ်နှံသူ သို့မဟုတ် ကမကထပြုသူ၏-

(က) အမည် ဒေါ်စန္ဒာထွန်း

(ခ) အဖအမည် ဦးအိုက်ထွန်း

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ၁၂/လမတ(နိုင်) ၀၀၀၀၆၃

(ဃ) နိုင်ငံသား မြန်မာနိုင်ငံ

(င) နေရပ်လိပ်စာ အလုံတာဝါ၊ River View Garden Housing၊ ကမ်းနားလမ်း၊ အလုံမြို့နယ်၊

(၁) ပြည်တွင်း

(၂) ပြည်ပနိုင်ငံ

(စ) ပင်မကုမ္ပဏီအမည် Shwe Taung Junction City Development Co., Ltd.

(ဆ) လုပ်ငန်းအမျိုးအစား High End Residential တည်ဆောက်၍ နှစ်တို/နှစ်ရှည် ငှားရမ်းခြင်းကို ဆောင်ရွက်ခြင်း၊

(ဇ) ပင်မကုမ္ပဏီ တည်ရှိရာလိပ်စာ အမှတ် (၅၈၄)၊ ကမ်းနားလမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ရင်းနှီးမြှုပ်နှံသူ နှင့် ဖက်စပ်ပြုလုပ်မည့် သူများ၏-

(က) အမည် Mr. Lim Song Hai (ID NO. S1751375C) Mr. Shaw Tian Soon (ID NO. S1356334I)

(ခ) အဖအမည် Mr. Lim Tong Kang Mr. Shaw Choon Sin

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ်

(ဃ) နိုင်ငံသား Singaporean Singaporean

(င) နေရပ်လိပ်စာ

(၁) ပြည်တွင်း

(၂) ပြည်ပနိုင်ငံ 6, Dover Rise, # 01-06, Heritage View, Singapore 138678 | 23, West Coast Rise # 07-04, Monterey Park Condominium, Singapore 127466

(စ) ပင်မကုမ္ပဏီအမည် New Asia Investment Ltd. City Square Development Pte Ltd.

(ဆ) လုပ်ငန်းအမျိုးအစား

(ဇ) ပင်မကုမ္ပဏီ တည်ရှိရာလိပ်စာ 6, Dover Rise, # 01-06, Heritage View, Singapore 138678 | 8 Eu Tong Sen Street #14-90, The Central, Singapore 059818

**မှတ်ချက်** အထက်အပိုဒ်(၁)နှင့် (၂)တို့နှင့် စပ်လျဉ်း၍ အောက်ပါအချက်များကို ပူးတွဲ တင်ပြရပါမည်-

(၁) ကုမ္ပဏီမှတ်ပုံတင်အထောက်အထား (မိတ္တူ)

(၂) နိုင်ငံသား စိစစ်ရေးကတ်အမှတ် (မိတ္တူ)နှင့် နိုင်ငံကူးလက်မှတ် (မိတ္တူ)

(၃) အဆိုပြု လုပ်ငန်းတွင် ပါဝင်လိုသူများ၏ လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး ဆိုင်ရာ အထောက်အထားများ

၃။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား -

(က) ကုန်ထုတ်လုပ်မှု

(ခ) ထုတ်လုပ်မှုနှင့် ဆက်စပ်သော ဝန်ဆောင်မှု လုပ်ငန်းများ

(ဂ) ဝန်ဆောင်မှု High End Residential တည်ဆောက်၍ နှစ်တို/နှစ်ရှည် ငှားရမ်းခြင်းကို ဆောင်ရွက်ခြင်း၊

(ဃ) အခြား

**မှတ်ချက်** အထက်အပိုဒ် (၃)နှင့် စပ်လျဉ်း၍ လုပ်ငန်းသဘောသဘာဝ ရှင်းလင်းချက် တင်ပြရန်

၄။ ဖွဲ့စည်းမည့် စီးပွားရေး အဖွဲ့အစည်းပုံသဏ္ဌာန်

(က) ရာခိုင်နှုန်းပြည့်

(ခ) ဖက်စပ်ပြုလုပ်ခြင်း

(၁) နိုင်ငံခြားသားနှင့် နိုင်ငံသား **မြန်မာနိုင်ငံသားပိုင်ဖြစ်သည့်** Shwe Taung Junction City Development Co., Ltd. **စင်္ကာပူနိုင်ငံမှ** New Asia Investment (JCITY) **နှင့်** City Square Development Pte Ltd. **တို့ ပူးပေါင်း၍ City Square Tower Co., Ltd. အမည်ဖြင့်**

(၂) နိုင်ငံခြားသားနှင့် အစိုးရဌာန/ အဖွဲ့အစည်း **ဖက်စပ်ကုမ္ပဏီ တည်ထောင်ခြင်း၊**

Shwe Taung Junction City Development Co., Ltd. - 70%
City Square Development Pte Ltd - 20%
New Asia Investment (JCITY) Pte Ltd. - 10%

(ဂ) ပဋိညာဉ် စာချုပ်ဖြင့် ဆောင်ရွက်ခြင်း

(၁) နိုင်ငံခြားသားနှင့် နိုင်ငံသား

(၂) နိုင်ငံခြားသားနှင့် အစိုးရဌာန/ အဖွဲ့အစည်း

မှတ်ချက် အထက်အပိုဒ်(၄)နှင့် စပ်လျဉ်း၍ အောက်ပါအချက်များကို ပူးတွဲတင်ပြရပါမည်-

(၁) ပြည်တွင်းနှင့် ပြည်ပမှ ထည့်ဝင်မည့် မတည်ငွေရင်း အချိုးကို ဖော်ပြပြီး၊ ယင်းကုမ္ပဏီကို စီမံ ခန့်ခွဲမည့်သူများ၏ အမည်၊ မည်သည့်နိုင်ငံသား၊ နေရပ်လိပ်စာနှင့် ရာထူးအမည်

(၂) ဖက်စပ်စာချုပ် (မူကြမ်း) တင်ပြရန် နှင့် နိုင်ငံတော်နှင့် ပတ်သက်လျှင် ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်

(၃) ပဋိညာဉ် (စာချုပ်) (မူကြမ်း)

၅။ ကုမ္ပဏီ ဖွဲ့စည်းခြင်းနှင့်သက်ဆိုင်သောအချက်အလက်များ

(က) ခွင့်ပြုမတည်ငွေရင်း USD-150,000,000

(ခ) အစုရှယ်ယာအမျိုးအစား Ordinary Share

(ဂ) အစုရှယ်ယာဝင်များက ထည့်ဝင်မည့် အစုရှယ်ယာပမာဏ 150,000,000 Shares of 1 USD each

**မှတ်ချက်** အထက်အပိုဒ်(၅)နှင့် စပ်လျဉ်း၍ ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်း /သင်းဖွဲ့စည်းမျဉ်း တင်ပြရန်

၆။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့် ကုမ္ပဏီ/လုပ်ငန်း (မတည်ငွေရင်း) နှင့်သက်ဆိုင်သော အချက်အလက်များ-

(က) ပြည်တွင်းမှထည့်ဝင်မည့် မတည်ငွေရင်း ပမာဏ/ ရာခိုင်နှုန်း

(ခ) နိုင်ငံခြားမှ ယူဆောင်လာမည့် မတည်ငွေရင်း ပမာဏ/ ရာခိုင်နှုန်း

ကျပ် / US$(သန်းပေါင်း)

| | Equity | | Loan | Total |
|---|---|---|---|---|
| | Capital | Share Holders Loan-1 | Share Holders Loan-2 (Loan from Bank) | |
| STJC | 30.02 | 35.04 | | 65.06 |
| City Square | 8.58 | 10.01 | 50.05 | 68.64 |
| New Asia | 4.29 | 5.01 | | 9.30 |
| Total | **42.89** | **50.05** | **50.05** | **143.00** |

စုစုပေါင်း

(ဂ) အဆိုပြုမတည်ငွေရင်း နှစ်အလိုက်ထည့်ဝင်မည့် အခြေအနေ/ယူဆောင်လာမည့်ကာလ within (4) years

(ဃ) အဆိုပြု မတည်ငွေရင်း အပြည့်အဝ ထည့်ဝင်မည့် နောက်ဆုံးရက် သတ်မှတ်ချက်

(င) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် သက်တမ်း နှစ် (၅၀) + ၁၀ + ၁၀

(စ) တည်ဆောက်မှုစတင်မည့်အချိန် ပထမအဆင့် - ၂၀၁၄-၂၀၁၅၊ ၂၀၁၅-၂၀၁၆၊
ဒုတိယအဆင့် - ၂၀၁၆-၂၀၁၇၊ ၂၀၁၇-၂၀၁၈၊ ၂၀၁၈-၂၀၁၉

(ဆ) တည်ဆောက်မှုကာလ (၄. ၅)နှစ်

**မှတ်ချက်** အထက်အပိုဒ်(၆)(ဂ) နှင့် စပ်လျဉ်း၍ လိုအပ်ပါက နောက်ဆက်တွဲဖြင့် ဖော်ပြပါရန်

၇။ နိုင်ငံခြားမှ ယူဆောင်လာမည့် မတည်ငွေရင်း၏ အသေးစိတ်စာရင်း- **Please see (Table-2)**

(က) နိုင်ငံခြားငွေ (အမျိုးအစားနှင့် တန်ဖိုးပမာဏ)

| | Equity | | Loan | Total |
|---|---|---|---|---|
| | Capital | Share Holders Loan-1 | Share Holders Loan-2 (Loan from Bank) | |
| City Square | 8.58 | 10.01 | 50.05 | 68.64 |
| New Aisia | 4.29 | 5.01 | | 9.30 |
| Total | **12.87** | **15.02** | **50.05** | **77.94** |

(ခ) စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ စသည့်ပစ္စည်းတို့၏ တန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်)

(ဂ) ကုန်ကြမ်းပစ္စည်းများနှင့် အခြား အလားတူ ပစ္စည်းများ၏ တန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်)

(ဃ) လိုင်စင်၊ တီထွင်မှုပိုင်ဆိုင်ခွင့်၊ စက်မှုဒီဇိုင်း၊ ကုန်အမှတ်တံဆိပ်မှုပိုင်ခွင့် စသည့် အသိဉာဏ်ဆိုင်ရာပစ္စည်းများကို တန်ဖိုးဖြတ်နိုင်သော အခွင့်အရေးများ၏တန်ဖိုးပမာဏ ........ ........

(င) ကျွမ်းကျင်မှု နည်းပညာရပ်များ၏ တန်ဖိုးပမာဏ ........ ........

(စ) အခြား ........ ........

စုစုပေါင်း ________ ________

မှတ်ချက် အထက်အပိုဒ် ၇(ဃ)(င)တို့ နှင့် စပ်လျဉ်း၍ အသုံးပြုခွင့်အထောက်အထားများပူးတွဲတင်ပြရန်

**ပြည်တွင်းပြည်ပမှဝယ်ယူမည့် စက်ပစ္စည်းနှင့် လုပ်ငန်းသုံးပစ္စည်းများကို လုပ်ငန်းရင်းနှီးငွေထဲမှ ဝယ်ယူပါမည်။**

၈။ ပြည်တွင်းမှထည့်ဝင်မည့် မတည်ငွေရင်း၏ အသေးစိတ်-

ကျပ်(သန်းပေါင်း)

(က) ငွေပမာဏ

| Equity | Share Holders Loan-1 | Total | Total Equivalent Kyat |
|---|---|---|---|
| 30.03 | 35.04 | 65.07 | 61,816.50 |

(ခ) စက်ပစ္စည်းကိရိယာများ တန်ဖိုးပမာဏ (အသေးစိတ်စာရင်း ပူးတွဲ တင်ပြရန်) ........

(ဂ) အဆောက်အအုံများ/ မြေငှားရမ်းခ ........

(ဃ) အဆောက်အအုံဆောက်လုပ်မှုကုန်ကျစရိတ် ........

(င) ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုးပမာဏ (အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်) ........

(စ) တနဦးကုန်ကြမ်းပစ္စည်းတန်ဖိုးပမာဏ (အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်) ........

(ဆ) အခြား ........

စုစုပေါင်း ________

၉။ ဆောင်ရွက်မည့် စီးပွားရေးအဖွဲ့အစည်းနှင့် သက်ဆိုင်သော အချက်အလက်များ -

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်ဒေသ (များ)/တည်နေရာ **ရန်ကုန်တိုင်းဒေသကြီး၊ ပန်းဘဲတန်းမြို့နယ်၊ ဗိုလ်ချုပ်အောင်ဆန်းလမ်းနှင့်ရွှေတိဂုံဘုရားလမ်းထောင့်၊ ဗိုလ်ချုပ်ဈေးနှင့်လေဟာပြင်ဈေးနေရာ၊ ရန်ကုန်မြို့။**

(ခ) မြေ သို့မဟုတ် မြေနှင့်အဆောက်အအုံ နေရာအမျိုးအစားနှင့် အကျယ်အဝန်းလိုအပ်ချက်

(၁) တည်နေရာ **ရန်ကုန်တိုင်းဒေသကြီး၊ ပန်းဘဲတန်းမြို့နယ်၊ ဗိုလ်ချုပ်အောင်ဆန်း လမ်းနှင့်ရွှေတိဂုံဘုရားလမ်းထောင့်၊ ဗိုလ်ချုပ်ဈေးနှင့်လေဟာပြင်ဈေးနေရာ၊ ရန်ကုန်မြို့။**

(၂) မြေ/အဆောက်အအုံ အကျယ်အဝန်း၊ အရေအတွက် Residential (2 Units) - 50,253 Sqm

(၃) လက်ရှိပိုင်ဆိုင်သူ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီနှင့် Shwe Taung Junction Development City Co., Ltd. တို့မှ အကျိုးတူ ပူးပေါင်းဆောင်ရွက်သည့် စီမံကိန်းဖြစ်ပါသည်။

(ကက) အမည်/ ကုမ္ပဏီအမည်/ဌာန ..................

(ခခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ် ..................

(ဂဂ) နေရပ်လိပ်စာ ..................

..................

(၄) မြေအမျိုးအစား ..................

(၅) မြေငှားဂရန် ခွင့်ပြုကာလ ..................

(၆) ငှားရမ်းမည့်ကာလ .................. မှ .................. ထိ ( ) နှစ်

(၇) ငှားရမ်းခနှုန်းထား Develop and Use Agreement ဖြင့် ဆောင်ရွက်ပါမည်။

(ကက) မြေ ..................

(ခခ) အဆောက်အအုံ စုပေါင်းပိုင်အဆောက်အအုံမှ (၅၀,၂၅၃)စတုရန်းမီတာ

(၈) ရပ်ကွက် ..................

(၉) မြို့နယ် ..................

(၁၀) ပြည်နယ်/တိုင်းဒေသကြီး ..................

(၁၁) ငှားရမ်းမည့်ပုဂ္ဂိုလ် ..................

(ကက) အမည်/ ကုမ္ပဏီအမည်/ဌာန ..................

( ခခ ) အဖအမည် ..................

( ဂဂ ) နိုင်ငံသား ..................

(ဃဃ) နိုင်ငံကူးလက်မှတ်အမှတ် ..................

( ငင ) နေရပ်လိပ်စာ ..................

**မှတ်ချက်** အထက်အပိုဒ်၉(ခ)နှင့်စပ်လျဉ်း၍ အောက်ပါ အချက်များကို ပူးတွဲတင်ပြရပါမည်-

(၁) မြေပိုင်ဆိုင်မှု/မြေဂရန်အထောက်အထားနှင့် မြေပုံ ပူးတွဲ တင်ပြရန်

(၂) မြေငှားစာချုပ်(မူကြမ်း)တင်ပြရန်နှင့် နိုင်ငံတော်နှင့် ပတ်သက်လျှင် ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်တင်ပြရန်

(ဂ) ဆောက်လုပ်မည့်အဆောက်အအုံလိုအပ်ချက်

(၁) အဆောက်အအုံ အမျိုးအစား/အရေအတွက် Residential (2 Units) - 50,253 Sqm

(၂) အကျယ်အဝန်း ..................

(ဃ) ထုတ်လုပ်မည့် ကုန်ပစ္စည်း/ ဝန်ဆောင်မှု ..................

(၁) ထုတ်လုပ်မည့် ပစ္စည်း ..................

(၂) နှစ်စဉ်ထုတ်လုပ်မည့် ခန့်မှန်းအရေအတွက် ..................

(၃) ဝန်ဆောင်မှု အမျိုးအစား ..................

(၄) နှစ်စဉ်ဝန်ဆောင်မှု ခန့်မှန်းတန်ဖိုး ..................

**မှတ်ချက်** အထက် အပိုဒ် ၉(ဃ) နှင့် စပ်လျဉ်း၍ အသေးစိတ် အချက်အလက်များကို ပူးတွဲတင်ပြပါရန်

(င) နှစ်စဉ် လုပ်ငန်းသုံးပစ္စည်း/ ကုန်ကြမ်းလိုအပ်ချက်

မှတ်ချက် အထက်အပိုဒ်၉(င)နှင့်စပ်လျဉ်း၍အမျိုးအစား/အရေအတွက်/ တန်ဖိုး/ လုပ်ငန်းဆိုင်ရာ နည်းပညာ စံချိန်စံညွှန်းကန့်သတ်ချက်တို့ကို စာရင်းပြုစု၍ အသေးစိတ်အချက်အလက်များကို ပူးတွဲတင်ပြ ပါရန်

(စ) ထုတ်လုပ်မည့် နည်းစနစ် ....................

(ဆ) အသုံးပြုမည့် နည်းပညာ ....................

(ဇ) ရောင်းချမည့် နည်းစနစ် High End Residential တည်ဆောက်၍ နှစ်တို/နှစ်ရှည် ငှားရမ်းခြင်းကို ဆောင်ရွက်ခြင်း၊

(ဈ) နှစ်စဉ် စက်သုံးဆီ လိုအပ်ချက် 1,460,000 Liter/Yr.

(အမျိုးအစား/ အရေအတွက် ဖော်ပြရန်)

(ည) နှစ်စဉ် လျှပ်စစ်ဓါတ်အား လိုအပ်ချက် 21,898 MW.h/Yr.

(ဋ) နှစ်စဉ် ရေလိုအပ်ချက် 199,250 m3/Yr.

(နေ့စဉ်ရေလိုအပ်ချက်ရှိလျှင်ဖော်ပြရန်)

၁၀။ ငွေကြေးပိုင်ဆိုင်မှုနှင့် ပတ်သက်၍ အသေးစိတ်ဖော်ပြချက် -

(က) အမည်/ ကုမ္ပဏီအမည် ....................

(ခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ....................

(ဂ) ဘဏ်စာရင်းအမှတ် ....................

**မှတ်ချက်** အထက်အပိုဒ် ၁၀ နှင့် စပ်လျဉ်း၍ မိခင်နိုင်ငံရှိ ဘဏ်ထောက်ခံချက် သို့မဟုတ် မိခင်ကုမ္ပဏီ၏ စာရင်းစစ်ပြီးသည့် နှစ်ချုပ်စာရင်း ပူးတွဲ တင်ပြရန်

၁၁။ ဆောင်ရွက်မည့် စီးပွားရေးအဖွဲ့အစည်းတွင် လိုအပ်မည့် အမှုထမ်းများစာရင်း -

(က) ပြည်တွင်းမှ လိုအပ်မည့် အမှုထမ်းများ ( 131 ) ဦး (99.24)%

(ခ) ပြည်ပမှ လိုအပ်မည့် ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ ( 1 ) ဦး (0.76 )%

(အင်ဂျင်နီယာ၊ QC ၊ Buyer ၊ စီမံခန့်ခွဲရေး စသည့် လုပ်ငန်းသဘာဝပေါ်မူတည်၍ လိုအပ်သည့် ကာလ အပိုင်းအခြားပါ ဖော်ပြရန်)

**မှတ်ချက်** အထက်အပိုဒ်၁၁ နှင့်စပ်လျဉ်း၍ အောက်ပါအချက်များကို ပူးတွဲတင်ပြရပါမည်-

(၁) အရေအတွက်၊ ရာထူး၊ လစာနှုန်း စသည့်အချက်များ

(၂) အမှုထမ်း/ဝန်ထမ်းလုပ်သားများ၏ လူမှုဖူလုံရေး၊ သက်သာချောင်ချိရေး ဆောင်ရွက်မည့် အစီအမံများ

(၃) နိုင်ငံခြားသားမိသားစု ပါ/ မပါ

၁၂။ စီးပွားရေး တွက်ခြေကိုက်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ-

| | နိုင်ငံခြားငွေ | ညီမျှသည့် ခန့်မှန်းကျပ်ငွေ |
|---|---|---|
| (က) နှစ်စဉ် ဝင်ငွေရရှိမှု | Table - 9 | |
| (ခ) နှစ်စဉ်လုပ်ငန်းကုန်ကျစရိတ် | Table - 9 | |
| (ဂ) နှစ်စဉ် အသားတင်အမြတ် | Table - 9 | |
| (ဃ) နှစ်အလိုက် ရင်းနှီးမြှုပ်နှံမှုတန်ဖိုး | Table - 2 | |
| (င) အရင်းကြေကာလ | Table - 10 | |
| (စ) အခြား အကျိုးအမြတ်များ | | |

(အသေးစိတ်တွက်ချက်ပုံနည်းစနစ်ကို ပူးတွဲဖော်ပြရန်)

၁၃။ သဘာဝပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း **Please see Report in Attached-------**

(က) သဘာဝပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း ဆောင်ရွက်မည့် အဖွဲ့အစည်း **ERE Consulting Group, Malaysia**

(ခ) သဘာဝပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း ဆောင်ရွက်မည့် ကာလ

(ဂ) သဘာဝပတ်ဝန်းကျင် ထိခိုက်မှုအတွက် ပေးလျော်မှု အစီအစဉ်

(ဃ) ရေသန့်စနစ်နှင့် ရေဆိုးစွန့်ထုတ်မည့် အစီအစဉ်

(င) အညစ်အကြေး အမှိုက်စွန့်ပစ်မည့် အစီအစဉ်

(စ) ဓာတုပစ္စည်းများ အသုံးပြုပါက သိုလှောင်ထိန်းသိမ်းမည့် အစီအစဉ်

၁၄။ လူမှုစီးပွားရေးဆိုင်ရာ သက်ရောက်မှုများ ဆန်းစစ်ခြင်း **Please see Report in Attached-------**

(က) လူမှုစီးပွားရေးဆိုင်ရာ သက်ရောက်မှုများ ဆန်းစစ်ခြင်း ဆောင်ရွက်မည့် အဖွဲ့အစည်း **ERE Consulting Group, Malaysia**

(ခ) လူမှုစီးပွားရေးဆိုင်ရာ သက်ရောက်မှုများ ဆန်းစစ်ခြင်း ဆောင်ရွက်မည့်ကာလ

(ဂ) လူမှုပတ်ဝန်းကျင်အား အထောက်အပံ့ပြုမည့် အစီအစဉ်

လက်မှတ် ..............................

အမည် ဒေါ်စန္ဒာထွန်း

ရာထူး ဒါရိုက်တာ

# ဗိုလ်ချုပ်အောင်ဆန်း SQUARE စီမံကိန်း
# ရင်းနှီးမြှုပ်နှံဆောင်ရွက်မည့်ပုံစံ



City Square Tower Co., Ltd.
River View Garden Housing, Ahlone Tower
Strand Road, Ahlone Township
Yangon Region, Myanmar
Tel: +95 1 211430, Fax: 212217, 226979
Registered No. 1009 FC/2013-2014

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

စာအမှတ်၊ 044/BDD-MIC/06-14
ရက်စွဲ၊ ၂၀၁၄ခုနှစ်၊ ဇွန်လ (၁၇)ရက်

အကြောင်းအရာ။ ။ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီနှင့် Shwe Taung Junction City Development Co., Ltd. တို့ အကျိုးတူ ပူးပေါင်းဆောင်ရွက်လျက်ရှိသည့် ဗိုလ်ချုပ်အောင်ဆန်း SQUARE စီမံကိန်းပါ Residential Tower တည်ဆောက်၍လုပ်ငန်းလုပ်ကိုင်ခြင်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ရင်းနှီးမြှုပ်နှံဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလုပ်ငန်းအတွက် ပြည်ပချေးငွေရယူရန်ကိစ္စ။

ရည် ညွှန်း ချက်။ ။(၁)City Square Tower Co., Ltd. ၏ ၂၀၁၄ခုနှစ်၊ မတ်လ (၁၀) ရက်နေ့စွဲပါ စာအမှတ် (010/City Squaretower-MIC/03-14)။

ရည် ညွှန်း ချက်။ ။(၂)Oversea Chinese Banking Corporation (OCBC) Limited ၏ (၁၈. ၂. ၂၀၁၄) နေ့စွဲပါစာနှင့် United Overseas Bank (UOB) ၏ (၁၇. ၆. ၁၄) နေ့စွဲပါစာ။

၁။ ရန်ကုန်တိုင်းဒေသကြီး၊ ပန်းဘဲတန်းမြို့နယ်၊ ဗိုလ်ချုပ်အောင်ဆန်းလမ်းနှင့် ရွှေတိဂုံဘုရားလမ်းထောင့်၊ မြေတိုင်းရပ်ကွက် (၃-အေ)ရှိ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီပိုင် ဗိုလ်ချုပ်ဈေးသစ်နှင့် လေဟာပြင်ဈေးနေရာ မြေဧရိယာ(၆. ၅၂၅)ဧကပေါ်တွင် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီနှင့် Shwe Taung Junction City Development Co., Ltd တို့ အကျိုးတူပူးပေါင်း၍ ဗိုလ်ချုပ်အောင်ဆန်း Square စီမံကိန်းကို ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် နိုင်ငံတော်သမ္မတရုံးတို့၏ ခွင့်ပြုချက်အရ လုပ်ငန်းသဘောတူစာချုပ် ကို (၁၁. ၅. ၂၀၁၃)နေ့တွင် ချုပ်ဆိုခဲ့ပြီး စီမံကိန်းလုပ်ငန်းအား အကောင်အထည်ဖော် ဆောင်ရွက်လျက် ရှိပါသည်။

၂။ အထက်ပါ အကျိုးတူပူပေါင်းဆောင်ရွက်ခြင်း လုပ်ငန်းသဘောတူစာချုပ်ပါ စည်းမျဉ်းစည်းကမ်းအတွင်းမှ လုပ်ပိုင်ခွင့်အရလည်းကောင်း၊ Residential Tower အဆောက်အဦကို နိုင်ငံသားပိုင်ကုမ္ပဏီဖြစ်သည့် Shwe Taung Junction City Development Co., Ltd. သည် စင်္ကာပူနိုင်ငံမှ City Square Development Pte. Ltd. နှင့် New Asia Investments (JCITY) Pte. Ltd. တို့ ပူပေါင်းပြီး City Square Tower Co., Ltd. အမည်ဖြင့် ဖက်စပ်ကုမ္ပဏီတည်ထောင်၍ Residential Tower လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုလွှာကို ရည်ညွှန်းချက်(၁)ပါစာဖြင့် တင်ပြခဲ့ပြီးဖြစ်ပါသည်။

၃။ အဆိုပြုထားသည့် နိုင်ငံတကာအဆင့်မီ Residential Tower စီမံကိန်း၏ ခန့်မှန်းရင်းနှီး မြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ (၁၄၃.၀၀)သန်း ရင်းနှီးမြှုပ်နှံဆောင်ရွက်သွား မည်ဖြစ်ပါကြောင်း၊ အဆိုပြုစီမံကိန်းသည် လုပ်ငန်းပမာဏကြီးမားသောကြောင့် စီမံကိန်းချေးငွေ (Project Financing) အဖြစ် စင်္ကာပူနိုင်ငံ UOB၊ OCBC အစရှိသော နိုင်ငံတကာဘဏ်များမှ နိုင်ငံခြားချေးငွေ ရယူဆောင် ရွက်သွားမည်ဖြစ်ကြောင်းနှင့် ချေးငွေပြန်လည်ပေးဆပ်ရာတွင် မိမိတို့အစီအစဉ်ဖြင့် ဝန်ဆောင်မှုလုပ်ငန်း မှရရှိသည့်ဝင်ငွေများဖြင့် ပြန်လည်ပေးဆပ်သွားမည်ဖြစ်ကြောင်းကို ရည်ညွှန်းချက်ပါ အဆိုပြုလွှာဖြင့် တင်ပြခဲ့ပြီး ဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အနေဖြင့် အဆိုပါ နိုင်ငံခြားဘဏ်ချေးငွေအား မြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မရှင်ခွင့်ပြုမိန့်အရ ခွင့်ပြုပေးနိုင်ပါရန်နှင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်ဗဟိုဘဏ်နှင့် ညှိနှိုင်း၍ ဆက်လက်ဆောင်ရွက်နိုင်ရန်အတွက် ညွှန်ကြားပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

၅။ ချေးငွေရရှိရေးအတွက် OCBC နှင့် UOB ဘဏ်များမှ အဆိုပြုကမ်းလှမ်းလာသော ရည်ညွှန်းချက် (၂)ပါစာများအား ပူးတွဲတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(အောင်ဇော်နိုင်)
အုပ်ချုပ်မှုဒါရိုက်တာ
City Square Tower Co., Ltd.

မိတ္တူ-
- ရုံးလက်ခံ။

**City Square Tower Co., Ltd**
River View Garden Housing, Ahlone Tower,
Strand Road, Ahlone Township,
Yangon Region, Myanmar
Tel +95 1 211430, Fax 212217, 226979
Registered No. xxxxxxxxxxxxxxx

---

စာအမှတ်။ ။059/CST-MIC/05-14
နေ့စွဲ ။ ။၂၀၁၄ခုနှစ်မေလ(၂၉)ရက်

သို့

ညွှန်ကြားရေးမှူးချုပ်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး
နေပြည်တော်

အကြောင်းအရာ။ ။ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့်City Square Tower Co., Ltd မှ အထပ်(၂၈)ထပ်Residential Twin Tower တည်ဆောက်ငှားရမ်းခြင်း လုပ်ငန်းအားဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ။

ရည် ညွှန်း ချက်။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၀-၅-၂၀၁၄)ရက်စွဲပါစာအမှတ်၊ရကမ-၆(ခ)/န-၉၉၂/၂၀၁၄(၅၁၅၈-က)

၁။ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ (YCDC) နှင့် Shwe Taung Junction City Development Co., Ltd. တို့ အကျိုးတူ ပူးပေါင်း ဆောင်ရွက် ခြင်းမှ YCDC ရရှိမည့် အချိုးတွင် မြန်မာနိုင်ငံ Shwe Taung Junction City Development Co., Ltd. (၇၀%) စင်ကာပူနိုင်ငံ City Square Development Pte.Ltdမှ (၂၀%) နှင့် New Asia Investment (JCITY) Pte. Ltd မှ (၁၀%) ဖက်စပ်ဖြင့် City Square Tower Co., Ltd တည်ထောင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ပန်းဘဲတန်းမြို့နယ် ဗိုလ်ချုပ်ဈေးသစ်နှင့်လေဟာပြင်ဈေးနေရာတွင် အထပ် ၂၈ ထပ် Residential Twin Tower (၂) လုံး တည်ဆောက်ငှားရမ်းခြင်းနှင့် ပက်သက်၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အပေါ် ဆောင်ရွက်မည့်အစီအစဉ်များကို အောက်ပါအတိုင်း တင်ပြအပ်ပါ သည်။

(က) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုများ လျော့နည်းစေရန် လုပ်ငန်းအဆင့်ဆင့်အတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်စက်ပစ္စည်းများနှင့် နည်းလမ်းအစီအစဉ်များ ဂေဟစနစ်ထိခိုက်မှုအား လျော့နည်း

သက်သာစေမည့်နည်းလမ်းများ ထည့်သွင်းဆောင်ရွက်ပြီး၊ ဆောင်ရွက်ပြီးစီးမှုအခြေအနေကို ဝန်ကြီးဌာနသို့ ပုံမှန်တင်ပြ အစီရင်ခံသွားမည်ဖြစ်ပါသည်။

(ခ) ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ်တွင် ဆောင်ရွက်မည့် အဖွဲ့အစည်း၊ ကျခံသုံးစွဲမည့် ရန်ပုံငွေပမာဏတို့ကို ပညာရှင်များနှင့် တိုင်ပင်ခန့်မှန်းတွက်ချက်ပြီး ထည့်သွင်းဖော်ပြ အစီရင်ခံမည်ဖြစ်ပါသည်။

(ဂ) ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ်တွင် ဖော်ပြထားသည့် အစီအစဉ်များအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်သွားပြီး ဆောင်ရွက်ထားရှိမှု အစီရင်ခံစာများအား ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနသို့ ပြန်လည်တင်ပြ အစီရင်ခံမည်ဖြစ်ပါသည်။

(ဃ) ပြဋ္ဌာန်းထားသော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ၊ စံချိန်စံညွှန်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

(င) သက်ဆိုင်ရာတိုင်းဒေသကြီး/ပြည်နယ်အစိုးရအဖွဲ့နှင့် စီမံကိန်းအနီးဝန်းကျင် ဒေသခံပြည်သူ များ၏ ဆန္ဒနှင့်သဘောထားများ ရယူဆောင်ရွက်ပြီး ဒေသခံပြည်သူများအတွက် လူမှုစီးပွားရေးဆိုင်ရာ ဖွံ့ဖြိုးတိုးတက်မှုများ ရရှိနိုင်ရေး နည်းလမ်းများရှာကြံ အကောင်အထည်ဖော်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

(စန္ဒာထွန်း)
ဒါရိုက်တာ
စီးတီးစကွယ်ရ်းတာဝါကုမ္ပဏီလီမိတက်

မိတ္တူ
၁။ ပြည်ထောင်စုဝန်ကြီးရုံး ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန
၂။ ရုံးလက်ခံ

City Square Tower Co., Ltd
River View Garden Housing, Ahlone Tower,
Strand Road, Ahlone Township,
Yangon Region, Myanmar
Tel: +95 1 211430, Fax: 212217, 226979
Registered No. xxxxxxxxxxxxxxx

စာအမှတ်။ ။058/CST-MIC/05-14
နေ့စွဲ။ ။၂၀၁၄ခုနှစ်၊မေလ(၂၉)ရက်

သို့

ညွှန်ကြားရေးမှူးချုပ်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး
နေပြည်တော်

အကြောင်းအရာ။ ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့်City Square Tower Co., Ltd မှ အထပ် (၂၈)ထပ်Residential Twin Tower တည်ဆောက်ငှားရမ်းခြင်း လုပ်ငန်း အားဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ။

ရည် ညွှန်း ချက်။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၀-၅-၂၀၁၄) ရက်စွဲပါစာအမှတ် ရက-၆(က)/န-၉၉၂/၂၀၁၄(၅၁၇၀)

၁။ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ (YCDC)နှင့် Shwe Taung Junction Ciy Development တို့ အကျိုးတူပူးပေါင်းဆောင်ရွက်ခြင်းမှ (YCDC) ရရှိမည့်အချိုးတွင် မြန်မာနိုင်ငံ Shwe Taung Junction City Development Co., Ltd မှ (၇၀%)၊ စင်္ကာပူနိုင်ငံ City Square Development Pte., Ltd. မှ (၂၀%) နှင့် New Asia Investment (JCITY) Pte., Ltd. မှ (၁၀%) ဖက်စပ်ပြု၍ City Square Tower Co., Ltd. တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး ပန်းဘဲတန်းမြို့နယ်၊ ဗိုလ်ချုပ်အောင်ဆန်းလမ်းနှင့် ရွှေတိဂုံဘုရား လမ်းထောင့်၊ ဗိုလ်ချုပ်ဈေးသစ်နှင့် လေဟာပြင်ဈေးနေရာတွင် တည်ဆောက်မည့် အထပ်(၂၈)ထပ်ပါ Residential Twin Tower (၂)လုံး တည်ဆောက်ငှားရမ်းခြင်းလုပ်ငန်းဆောင်ရွက်ရန် အဆောက်အဦနှင့်ပက်သက်၍ ရည်ညွှန်းချက်ပါစာဖြင့် မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းမှ ထောက်ခံတင်ပြထားသည့် အဆောက်အဦပိုင်းတွင် ပြည်ပမှ တင်သွင်းမည့် ဆောက်လုပ်ရေးပစ္စည်းများနှင့် အရေအတွက်ကိုသာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ကော်မရှင်မှ ခွင့်ပြုမည့်အကောက်ခွန်ဖြစ်စေ အခြားပြည်တွင်းအခွန်အကောက်များကိုဖြစ်စေ နှစ်မျိုးလုံးကိုဖြစ်စေကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များဖြင့် တင်သွင်းမည်ဖြစ်ပါသည်။

၂။ အဆိုပြုချက်ပါဆောက်လုပ်ရေးပစ္စည်းများနှင့် အရေအတွက် (Ton)များမှ ထောက်ခံတင်ပြသော အရေအတွက် (Ton) ကို ပြည်ပမှ တင်သွင်းပါမည်။ ကျန်သော အရေအတွက်ကို အဆောက်အဦ

စံချိန်စံညွှန်းမီရေးအတွက် ပြည်တွင်းဈေးကွက်မှ ဝယ်ယူခြင်းဖြင့်လည်းကောင်း၊ ပြည်ပဈေးကွက်မှ အခွန်အကောက်ပေးဆောင်၍တင်သွင်းခြင်းဖြင့်လည်းကောင်းဆောင်ရွက်သွားမည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

(စန္ဒာထွန်း)
ဒါရိုက်တာ
စီးတီးစကွယ်ရ်းတာဝါကုမ္ပဏီလီမိတက်

<u>မိတ္တူ</u>
၁။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း
၂။ ရုံးလက်ခံ

**City Square Tower Co., Ltd.**
River View Garden Housing, Ahlone Tower,
Strand Road, Ahlone Township,
Yangon, Myanmar
Tel : +.........................
Registration No : ..................

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ် ။ ။ 010/CitySquaretower-MIC/ 03-14
ရက်စွဲ ။ ။ ၂၀၁၄ခုနှစ်၊ မတ်လ (၁၁)ရက်

အကြောင်းအရာ ။ ။ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီနှင့် Shwe Taung Junction City Devlopment Co., Ltd. တို့ အကျိုးတူပူးပေါင်းဆောင်ရွက်လျက်ရှိသည့် ဗိုလ်ချုပ်အောင်ဆန်း Square စီမံကိန်းပါ High End Residential အဆောက်အဦတည်ဆောက်၍ လုပ်ငန်းလုပ်ကိုင်ခြင်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ရင်းနှီးမြှုပ်နှံ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြခြင်း။

၁။ ရန်ကုန်တိုင်းဒေသကြီး၊ ပန်းဘဲတန်းမြို့နယ်၊ ဗိုလ်ချုပ်အောင်ဆန်းလမ်းနှင့် ရွှေတိဂုံဘုရား လမ်းထောင့်၊ မြေတိုင်းရပ်ကွက် (၁၆စီ-၃)၊ မြေကွက်အမှတ် (၃-အေ)ရှိ ရန်ကုန်မြို့တော် စည်ပင်သာယာရေး ကော်မတီပိုင် ဗိုလ်ချုပ်ဈေးသစ်နှင့်လေဟာပြင်ဈေးနေရာ မြေဧရိယာ(ဧ. ၅၂၅)ကေ ပေါ်တွင် ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီနှင့် Shwe Taung Junction City Development Co., Ltd. တို့ အကျိုးတူ ပူးပေါင်း၍ ဗိုလ်ချုပ်အောင်ဆန်း Square စီမံကိန်းကို ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့နှင့် နိုင်ငံတော်သမ္မတရုံးတို့၏ ခွင့်ပြုချက်အရ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထား မှတ်ချက်များနှင့်အညီ လုပ်ငန်းသဘောတူစာချုပ်ကို (၁၁-၅-၂၀၁၃)နေ့တွင် ချုပ်ဆိုခဲ့ပြီး စီမံကိန်း လုပ်ငန်းအား အကောင်အထည်ဖော် ဆောင်ရွက်လျက်ရှိပါသည်။ (စာချုပ်အား နောက်ဆက်တွဲ (က)ဖြင့် ဖော်ပြထားပါသည်။)

၂။ အထပ်မြင့်အဆောက်အဦများဆောက်လုပ်ရန် ဒီဇိုင်းတွက်ချက်မှုများကို အထပ်မြင့် အဆောက်အအုံ တည်ဆောက်ရေးစီမံကိန်းများ ကြီးကြပ်စစ်ဆေးရေးပညာရှင်အဖွဲ့ (CQHP) သို့ တင်ပြ၍ အစစ်ဆေးခံခဲ့ပြီး CQHP ၏ ထောက်ခံချက် ရရှိခဲ့ပြီး ဖြစ်ပါသည်။ CQHP ၏ ထောက်ခံချက် နှင့် စီမံကိန်းလုပ်ငန်းများ ဆောင်ရွက်နေမှု မှတ်တမ်းဓာတ်ပုံများကို ပူးတွဲတင်ပြအပ်ပါသည်။

၃။ Shwe Taung Junction City Development Co., Ltd. သည် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု များကို ဖိတ်ခေါ်သည့် ရည်ရွယ်ချက်ဖြင့်လည်းကောင်း၊ ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီနှင့်

